# تصحيح الكتابة العربيّة

# နည်းမှန်လမ်းမှန် အရဗီရေးဟန်

ကြီးကြပ်သူ
မုဖ်သီ အာစွင်းမ် (နဒ်ဝီ၊မဇ္ဇာဟေရီ၊အဗုလ်ဟာစနီ)

ရေးသားသူ
အုဆ်မာန် စအီးဒ် (ကောင်ဆရီ)



ရွှေဖလားကို ငွေအနားကွပ်ခြင်း

**စာပေမိတ်ဆက်စကား**

စာပေတိုင်း၊ ဘာသာစကားတိုင်းတွင် အဓိကကျလှသည့် အချက်ကြီး (၄) ချက်ရှိပါသည်။

(၁)အပြော

(၂)နားထောင်ခြင်း/နားလည်ခြင်း

(၃)အဖတ်

(၄)အရေး

အချင်းချင်းကြား ရင်တွင်းစကားများ ဖလှယ်ရန် ပြောဆိုခြင်းကို ကြားခံအနေဖြင့် အသုံးပြုကြသည်။ ရင်တွင်းဖြစ်များကို ဖွင့်ဟပြောဆိုရာမှ နားလည်လာကြသည်။ တချို့သော စကားလုံးများကို မှတ်တမ်းတင်လိုကြ သဖြင့် ရေးသားခြင်းကို အသုံးပြုကြသည်။ ရေးသားချက်များကို သိရှိစေရန် ဖတ်ကြသည်။

ပြောဆိုရာတွင် အသံ၊ ဌာန်၊ ဟန် စသည်တို့ဖြင့် ပြောဆိုမှသာလျှင် အဓိပ္ပါယ်ပေါက်မြောက်နိုင်မည်ဖြစ်သည်။

ထို့အတူရေးသားရာတွင်လည်းသူ့အဖြတ်၊ သူ့အရပ်ဖြင့်ဖြတ်တောက်မှသာလျှင် ရည်ရွယ်သောအဓိပ္ပါယ် ပေါ်ပေါက်နိုင်ပေမည်။

**ပုဒ်ဖတ်ပုဒ်ရပ်သင်္ကေတဟူသည်**

အသံနေအသံထားအမျိုးမျိုးနှင့် ဖြတ်တောက်ရမည့်နေရာများကို ရှင်းပြပေးရန် ဝါကျ(သို့)စကားလုံးများကြားတွင် သတ်မှတ်ထားသည့် အဓိပ္ပါယ်ညွှန်

သင်္ကေတများကို အရဗီစာပေတွင် علامات الترقيم၊ အင်္ဂလိပ်စာပေတွင် Punchuation Mark၊ မြန်မာစာပေတွင် ပုဒ်ဖြတ်ပုဒ်ရပ်သင်္ကေတများ ဟုခေါ်၏။

စာရေးရာတွင် အဓိပ္ပါယ်ညွှန်သင်္ကေတများကို သူ့နေရာနှင့်သူ တပ်ဆင်ပေးခြင်းဖြင့် စာရေးသူ၏ရည်ရွယ်ချက်ကို နားလည်နိုင်မည်။ အဓိပ္ပါယ်များလည်း ရုပ်လုံးပေါ်လာမည်။ ဝါကျတစ်ခုနှင့်တစ်ခုကြားရှိသည့် ဆက်သွယ်ချက်ကိုလည်း သိရှိနိုင်မည်။

ထိုသင်္ကေတများသည် စကားပြောဆိုရာတွင် လက်ဟန်ခြေဟန်၊ အသံနေအသံထား စသည်တို့ကို ကိုယ်စားပြုပေးမည်ဖြစ်သည်။

အဓိပ္ပါယ်ညွှန်သင်္ကေတများကို စနစ်တကျ တပ်ဆင်ထားခြင်းဖြင့် စာဖတ်ရာတွင် အဓိပ္ပါယ်ရှိရှိ ဖြတ်တောက်နိုင်ပြီး စာဖတ်ရွတ်တတ်လာမည် ဖြစ်သည်။

**သမိုင်းနောက်ခံ**

အဓိပ္ပါယ်ညွှန်သင်္ကေတများနှင့်ဖြစ်ပေါ်လာသည့် သမိုင်းကို လေ့လာကြည့်သော် ခေတ်(၄)ခေတ်ကို တွေ့ရှိရသည်။ (၂)ပိုင်းမှာ အရဗီစာပေနှင့် သက်ဆိုင်မှုမရှိဘဲ အခြားနှစ်ပိုင်းမှာ အရဗီစာပေနှင့် သက်ဆိုင်မှု ရှိနေပါသည်။

ဤသင်္ကေတများကို ပထမဆုံး တီထွင်ခဲ့သူမှာ သဒ္ဒါပညာရှင် ရောမနိုင်ငံ ကွာတာတိန်မြို့သား “Aristophane Bc 200” ဖြစ်သည်။

လက်ရှိ စာပေနယ်ပယ်တွင် တွေ့ရှိရသည့် အဓိပ္ပါယ်ညွှန်သင်္ကေတများကိုမူ ပြင်သစ်နိုင်ငံသား (De Sacy)က တီထွင်ခဲ့သည်။

အရဗီစာပေရှိ အဓိပ္ပါယ်ညွှန်သင်္ကေတများ၏ သမိုင်းအစမှာ ကျမ်းမြတ်ကုရ်အာန်၏ အာယသ်တော်အဆုံးရှိ ရပ်နားခြင်းဆိုင်ရာ သင်္ကေတများမှ စတင်သည်။

လက်ရှိ အရဗီစာပေတွင် အသုံးပြုနေသော အဓိပ္ပါယ်ညွှန်သင်္ကေတများကို အီဂျစ်နိုင်ငံမှ အကျော်အမော် ပညာရှင် ရှိုင်ခ် အဟ်မဒ် ဇကီးဘာရှာက (၁၉၁၃)ခုနှစ်တွင် စတင်သတ်မှတ် တီထွင်ခဲ့သည်။

ဤသို့ဖြင့် ဤသင်္ကေတများကို သုံးစွဲခြင်း အစဉ်အလာသည် တွင်ကျယ်လာခဲ့သည်။ အကျိုးလည်းဖြစ်ထွန်းခဲ့သည်။

**အသုံးများသောသင်္ကေတများ**

ကျော်ကြားပြီး အသုံးများသော သင်္ကေတများမှာ (၂၁)ခုရှိသည်။ ၎င်းတို့ကို အုပ်စု(၄)စုဖြင့် ခွဲခြားသိရှိနိုင်သည်။

၁။ علامات الوقف ( . ،)- (ရပ်နားခြင်းပြသင်္ကေတများ)

ဤသင်္ကေတများဖြင့် စာဖတ်သူအားရပ်နားခြင်းဆိုင်ရာအခြေအနေများကိုသင်ကြားပေးနိုင်သည်။

၂။ علامات النبرات الصوتية (: ... ? ! ) အသံနေအသံထားပြ သင်္ကေတများ။

ဤသင်္ကေတများဖြင့် အသံနေအသံထားဖြင့် စိတ်ခံစားချက်များကို သိရှိစေသည်။

၃။ علامات الحصر (- () [ ] <>)

ဤသင်္ကေတများဖြင့်ဦးစားပေးဖော်ပြလိုသောအကြောင်းအရာများကိုရည်ညွှန်းပေးသည်။

၄။ علامات الإشارات البرمجية / العلامات الرياضية (* / & % )

ဤသင်္ကေတများကိုကွန်ပြူတာပရိုဂရမ်းမင်းနှင့်သင်္ချာတွက်ချက်မှုဆိုင်ရာအခန်းကဏ္ဍများတွင် အသုံးပြုသည်။

ဤနိဒါန်းစကားများအား သိရှိပြီးနောက် အရဗီစာရေးသားလိုသော၊ စာစီ စာရိုက်လုပ်လိုသူတိုင်းသည် အဓိပ္ပါယ်ညွှန်သင်္ကေတများကို ကြေညက်နေဖို့

လိုအပ်ပါသည်။ သို့မှသာ သူ့နေရာနှင့်သူ ဤသင်္ကေတများကို အသုံးပြုပြီး စာဖတ်သူကိုစကားလုံးများအတွင်း ကိန်းဝပ်နေသော အဓိပ္ပါယ်များနှင့် တစ်စိတ်တဒေသ မိတ်ဆက်ပေးနိုင်မည်ဖြစ်ပါသည်။

**သတင်းကောင်း**

ဤစေတနာကို အရင်းခံထားပြီး ခေတ်သစ် ကလောင်ရှင်တစ်ဦး ဖြစ်သည့် မော်လာနာ အွတ်စ်မားန် စအီးဒ် (အလ်ကောင်ဆရီ)က شبكة المدارس الإسلامية အဖွဲ့မှ ထုတ်ဝေသည့် تصحيح الكتابة العربية အမည်ရှိ ကျမ်းငယ်ကို မိုငြမ်းကာ မြန်မာ့မြေမှ အရဗီစာပေရေးသားလိုသော ကျောင်းသူကျောင်းသားများကို စာပေလက်ဆောင် တစ်ခုချီးမြှင့်လိုက်ပြီး အမည်ကို "နည်းမှန်လမ်းမှန် အရဗီရေးဟန်"ဟု ပေးထားပါသည်။

စာအုပ်ပါအကြောင်းအရာများသည် မှတ်သားရလွယ်ကူသည်ဖြစ်ရာ ဂရုတစိုက် သတိထား အသုံးပြုရန်သာလိုအပ်ပါသည်။

မော်လာနာ အွတ်ဆ်မားန်သည် online , offline တွင် ခေတ်မီ နည်းပညာရပ်များကို အသုံးပြုပြီး ကျယ်ကျယ်ပြန့်ပြန့် အွမ္မသ်ကို အကျိုးပြု နေသည့် မျိုးဆက်သစ် ပညာရှင်လူငယ်တစ်ဦးဖြစ်ပါသည်။ မော်လာနာ၏ ကြိုးပမ်းမှု အလုံးစုံတို့ကို အရှင်မြတ် လက်ခံသဘောတူတော်မူပါစေ။

**နိဂုံး**

ကျွန်ုပ်သည် ဤကျမ်းငယ်ကို လေ့လာဖတ်ရှုကြည့်ရာ အရဗီစာပေ ရေးသားလိုသည့် ကျောင်းသား၊ ကျောင်းသူများအတွက် အရေးကြီးသည့် ကွက်လပ် တစ်ခုကို ဖြည့်ဆည်းလိုက်ခြင်းဟု မှတ်ချက်ပြုလိုပါသည်။ အမှာစာ တစ်ခုကိုလည်း ကျမ်းရှင်က ရေးသားရန် တောင်းဆိုသဖြင့် အမှာစာဆိုသည်ထက် ဆရာကြီး

ဒေါက်တာစိုးနိုင်၏စကားကို ငှားရမ်းသုံးစွဲကာ ရွှေဖလားကိုငွေအနားကွပ်ခွင့်ရရှိသည် ဟုသာ ဆိုပါရစေ....။

မုဟမ္မဒ်အာစွင်းမ်(နဒ်ဝီ၊အဗုလ်ဟစနီ၊ မဇွာဟေ့ရီ)
ဟစ်ဂျ်ရီ (၁၄၄၆)ခု၊ ဆွဖရ်လ(၂၄)ရက်
30/8/2024(သောကြာနေ့)

بسم الله الرحمن الرحيم

ဖတ်ညွှန်း

بسم الله، والحمد لله، والصلاة والسلام على رسول الله وعلى آله وصحبه ومَنْ والاه وبعد..

စာအုပ်အမည် - နည်းမှန်လမ်းမှန် အရဗီရေးဟန်

စာမျက်နှာ - (၃၀)မျက်နှာ

ဘာသာစကား - မြန်မာ

ကြီးကြပ်သူ - မုဖ်သီအာစွင်းမ် (နဒ်ဝီ၊မဇ္ဇာဟေရီ၊အဗုလ်ဟစံနီ)

ရေးသားသူ - အုဆ်မားန် စအီးဒ် (ကောင်ဆရီ)

အသင်ဟာ အရဗီအရေးအသားနဲ့ ဖတ်ရွတ်မှုကို လေ့လာလိုက်စားနေသူတစ်ဦးဖြစ်မယ်ဆိုရင် ဒီစာအုပ်လေးက အသင့်အတွက် အထောက်ကူပြုအဖော်မွန်ဖြစ်လိမ့်မယ်လို့ မျှော်လင့်ပါတယ်။ ဒီစာအုပ်လေးထဲမှာ အရဗီအရေးသားနဲ့ ပတ်သတ်ပြီး သိမှတ်ဖွယ်ရာ၊ သတိပြုဖွယ်ရာလေးတွေကို ဖော်ပြထားပါတယ်။

အမှာစာနဲ့ ပထမစာမျက်နှာဖတ်လိုက်ရုံနဲ့ ဒီစာအုပ်လေးအကြောင်းက အတွေးထဲ ပုံဖော်ပြီးသားဖြစ်နေမှာပါ။ ဒီစာအုပ်လေးက အစ်လာမ့်ကျောင်းတော်များကွန်ယက်က ဦးစီးကျင်းပတဲ့ နည်းမှန်လမ်းမှန် အရဗီရေးဟန် ကမ်ပိန်းမှာ သင်ကြားခဲ့တဲ့ သင်ခန်းစာတွေကို မြန်မာဘာသာနဲ့ ပြန်လည်ပြန်ဆိုရေးသားထားတဲ့ စာအုပ်လေးဖြစ်ပါတယ်။

ဒီစာအုပ်အား ရေးသားရာမှာ ကကြီး မှ အ ထိ အကျိုးအကြောင်းသင့်လျော်စေခဲ့သည့် အလ္လာဟ်အရှင်မြတ်အား ဦးစွာကျေးဇူးတင်အပ်ပါတယ်။ အလ္လာဟ်ရှင်လက်ခံတော်မူပါစေ။(အာမီးန်)

ဒုတိယအနေနဲ့ ဒီစာအုပ်ကို စလယ်ဆုံး ဖတ်ရှုစိစစ်ပေးခဲ့ပြီး လိုအပ်သည်များအား လမ်းညွှန်ပြုပြင်ပေးခဲ့သည့် ဆရာသခင် မုဖ်သီ အာစွင်းမ် (နဒ်ဝီ၊မဇ္ဇာဟေရီ၊ အဗုလ်ဟစံနီ) အား ကျေးဇူးတင်ကမ္မည်းတင်အပ်ပါတယ်။

အဆုံးသတ်အနေနဲ့ အရှင့်ကရုဏာဆီ ရောက်လေပြီးသော ဖခင်ဖြစ်သူ နှင့် အာရ်ဝါဟ်များအတွက် အီဆွာလ်ဆဝါးဗ်အဖြစ် အလ္လာဟ်ရှင်လက်ခံစေရန် ဆုမွန်ဒုအာပြုအပ်ပါတယ်။

အုဆ်မာန် စအီးဒ် (ကောင်ဆရီ)
09/ 892 626 025
ossmansaeidkausari@gmail.com



بسم الله الرحمن الرحيم

နည်းမှန်လမ်းမှန် အရဗီရေးဟန်

အဓိကအကြောင်းအရာကို မစတင်မီ စာပေအရေးသားတွင် အဓိပ္ပါယ်ညွှန် သင်္ကေတများ၏ အရေးပါသက်ရောက်ပုံကို အရင်လေ့လာကြပါမည်။ တချို့သော အဓိပ္ပါယ်ညွှန်ပြသင်္ကေတများ၏ အကျိုးသက်ရောက်မှုကိုပမာပြု လေ့လာကြမည်။

(၁) စာရေးသူ၊စာဖတ်သူ နှစ်ဦးစလုံးအား လွယ်ကူစွာ နားလည်မှုရရှိစေခြင်း။ ဥပမာ-

-ما أحسن الرجل.

-ما أحسن الرجل!

-ما أحسن الرجل؟

ယခုဖော်ပြခဲ့သော ဝါကျသုံးခုသည် အဓိပ္ပါယ်သီးခြားစီဖြစ်သည်။ အပေါ်ယံအားဖြင့် ဖွဲ့စည်းတည်ဆောက်ထားသော စကားလုံးများ တူညီနေသော်လည်း ပထမဝါကျတွင် النقطة အစက်အပြောက်ကြောင့် ဝါကျသည် သတင်းပေးဝါကျဖြစ်ပြီး ما သည် အငြင်းပြစကားလုံးဖြစ်သည်။

! အာမေဋိတ်သင်္ကေတကြောင့် ဒုတိယဝါကျသည် အံ့သြခြင်းပြ ဝါကျဖြစ်ပြီး ما သည် شيئ (တစုံ၊တခု)၏ အလိုသဘောရသော အံ့သြပြ စကားလုံးဖြစ်သည်။

؟ အမေးပြသင်္ကေတကြောင့် တတိယဝါကျသည် အမေးဝါကျဖြစ်ပြီး ما သည် အမေးစကားလုံးဖြစ်သည်။

(၂) အဓိပ္ပါယ်ညွှန်ပြသင်္ကေတများကြောင့် စာရေးသူသည် စာဖတ်သူရှေ့ မှောက်တွင် အမူအယာဖြင့် ဟောပြောနေသကဲ့ ခံစားရစေသည်။

(၃)အဓိပ္ပါယ်ညွှန်ပြ သင်္ကေတများကြောင့် စာဖတ်သူသည် ခွဲဖတ်ရမည့်နေရာနှင့် ရပ်ဖတ်ရမည့် နေရာများအားသိနိုင်သောကြောင့် အသံအနိမ့်အမြင့် အတက်အကျဖြင့် ဖတ်ရှုတ်နိုင်သည်။

(၄)အဓိပ္ပါယ်ညွှန်သင်္ကေတများကြောင့် ရေးသားလိုသည့်အကြောင်းအရာအား လှပ တင့်တယ်စေမည်။ စာပေပညာရှင် အလွှာအသီးသီးမှ လက်ခံကြရမည့် အဆင့်ထိ တွန်းပို့စေပါသည်။ ရေးသားသည့်အကြောင်းအရာအား ဖတ်ရင်းမြဲ ဖတ်စေလိုသည့် စိတ်များဖြစ်ပွားစေသည်။

အဓိပ္ပါယ်ညွှန်သင်္ကေတများအား အသုံးပြုရပုံ

## **النقطة(.) အစက်အပြောက်**

- စာပိုဒ်အဆုံးသတ်တွင်အသုံးပြုရခြင်း။ ဥပမာ - .رجع الطالب إلى المدرسة
- ပြည့်ဝသောအဓိပ္ပါယ်ရှိသည့် ဝါကျများ (သို့မဟုတ်) ဝါကျတစ်ခု ပြီး နောက် စာပိုဒ်အလယ်တွင်အသုံးပြုသည်။

**ပြည့်ဝသောအဓိပ္ပါယ်ရှိသည့် ဝါကျဟူသည် သီးခြားအဓိပ္ပါယ်ဖြင့်လာရှိပြီး အနှောင့်အယှက်ကင်းသည့်အရာဇ်သည် သီးသန့် ဖြစ်သည်။**

- ဗျည်းအက္ခရာများနှင့်အမှတ်အသားများနောက်တွင်ထည့်သွင်းအသုံးပြုကြသည်။
- ဘွဲ့၊ဂုဏ်ထူးများအလိုသဘောပေးသည့် ဗျည်းအတိုကောက်များ၏ နောက်တွင် အသုံးပြုသည်။ ဥပမာ - (الدكتور فلان) د.فلان
- စကားလုံး(သို့မဟုတ်)စာကြောင်းအား အတိုကောက်အသုံးပြုသည့် ဗျည်းများ နောက်တွင် အသုံးပြုသည်။

ဥပမာ - (دون تاريخ) د.ت (جمهورية مصر العربية) ج.م.ع.

## الفاصلة(،) ကော်မာ

- المعطوف နှင့် المعطوف عليه ကြားတွင်အသုံးပြုရသည်။

ဥပမာ - جاء محمد ، ثم علي.

- အမည်များ၊ဌာနတို့ နှင့် ဆက်နွယ်နေသောအရာများကြား အသုံးပြုသည်။

ဥပမာ - كلية الآداب ، جامعة الكويت.

- အခေါ်စကားလုံး၏နောက်တွင်အသုံးပြုသည်။

ဥပမာ - يا محمد ، أطع أبويك.

- အမျိုးအစားများဖော်ပြရာတွင် အသုံးပြုရသည့် ဆက်နွယ်မှုပြ စကားလုံးများနေရာတွင် ကိုယ်စားပြုသုံးစွဲရသည်။

ဥပမာ - أقسام الكلمة : اسم، فعل،حرف.

- အဖြေထပ်ပေးရသော အဖြေစကားလုံးများ ( نعم ، بلى ، لا ، أجل ، كلا)နောက်တွင်အသုံးပြုသည်။

ဥပမာ - لا ، لم أقرأ الصحيفة.

- ကျိန်ဆိုခြင်းပြစကားလုံးနှင့်အဖြေကြားတွင်အသုံးပြုရသည်။

ဥပမာ - والله ، لأتصدقن.

- ပမာစကားလုံးများ(مثال ، نحو ، مثل) ၏နောက်တွင်အသုံးပြုသည်။

## الفاصلة المنقوطة (؛) Semicolon

➢ အကြိုးအကြောင်းဆက်နွယ်မှုရှိသော ဝါကျများကြားအသုံးပြုသည်။

ဥပမာ - اجتهد الطالب في الدراسة؛ فكانت النتيجة رائعة.

➢ အဓိပ္ပါယ်ပြည့်ဝပြီး ရှည်လျားသော ဝါကျများကြား အသက်ရှူရန် နှင့် ဖတ်ရွတ်သည့်အခါ အမှားကင်းစင်စေရန်အသုံးပြုရသည်။ ဥပမာ -

ليست المشكلة في المدارس نابعة من جفاف المناهج، أو تدني مستوى الطلاب، أو طول اليوم الدراسي؛ وإنما المشكلة في عدم تعاون الآباء مع المدرسة.

➢ ဆက်နွယ်မှုပြစကားလုံးဖြင့်ချိတ်ဆက်ထားသောအဓိပ္ပါယ်ပြည့်ဝါကျနှစ်ခုကြားအသုံးပြုရသည်။

ဥပမာ - لما وصل الرجل ، بدا السرور على وجهه؛ أما امرأته فكانت حزينة.

## النقطتان Colon (:)

➢ အရာတစ်ခုနှင့်၎င်း၏အမျိုးအစားများကြားအသုံးပြုရသည်။

ဥပမာ- الكلمة : اسم ، فعل ، حرف

➢ အရာတစ်ခုနှင့်၎င်း၏ဖွင့်ဆိုချက်အကြားအသုံးကြုရသည်။

ဥပမာ - الهضبة: الأرض المرتفعة.

➢ ပမာညွှန်စကားလုံးများနောက်တွင်အသုံးပြုသည်။

ဥပမာ -(مثل ، مثال ، نحو ، منها ، التالية)

➢ ပြောသူ နှင့် ပြောသည့်အရာကြားတွင်အသုံးပြုရသည်။

ဥပမာ -- قال : طفت و سعيت في الصباح.

- အရေအတွက်(စာ)များ၏နောက်တွင် အသုံးပြုသည်။

ဥပမာ - أولا :، وثانيا :

- ၂ါသနှင့်၎င်းအဓိပ္ပါယ်ပေးသောစကားလုံးများနောက်တွင်အသုံးပြုရသည်။

سأل : متى الاختبار؟- ဥပမာ

- မှီးငြမ်းကူးယူသောစကားလုံးအလျှင်အသုံးပြုရသည်။

ဥပမာ - من الأقوال المأثورة : "عند الشدائد يعرف الإخوان. "

**(؟) علامة الاستفهام အမေးသင်္ကေတ**

- အမေးစကားလုံးများ၏နောက်တွင်အသုံးပြုရသည်။

ဥပမာ - متى الساعة؟

**(!)علامة التعجب အာမေဋိတ်သင်္ကေတ**

- စိတ်ခံစားချက်များအတွက်အသုံးပြုသည်။

التعجب(အံ့သြခြင်း)

ما أجمل القمر!

الفرح(ပျော်ရွှင်ခြင်း)

وا فرحتاه!

الحزن(ဝမ်းနည်းခြင်း)

وا حسرتاه!

الدعاء(တောင်းဆိုခြင်း)

تبالك أيها الخائن!

الدهشة(မှင်သက်ခြင်း)

يا لجمال الخضرة فوق الجبال!

الاستغاثة(အကူအညီတောင်းခံခြင်း)

وامعتصماه ! الاهم رحماك!

الترجي(ဖြစ်ပျက်မှုရှိသောမျှော်လင့်ခြင်း)

لعل الله يرحمنا!

التمنى(ဖြစ်ပျက်မှုမရှိနိုင်သောမျှော်လင့်ခြင်း)

ليت الليل ينجلي!

التأسف(ဝမ်းနည်းခြင်း)

أسفي على الأحرار!

المدح(ချီးမွမ်းခြင်း)

حبذا الكرم ! نعم الثواب!

الذم(ရှုံ့ချခြင်း)

بئس اللئيم!

التحذير (သတိပေးခြင်း)

إياك و التأخيرفي الدرس ثانيا!

التأفف(ငြီးငြူခြင်း)

أف لتصرفاتك!

➢ ငြင်းပယ်ခြင်းပြအမေးစကားလုံးနောက်တွင်အသုံးပြုသည်။

ဥပမာ - كيف يجرؤ على إساءة الأدب؟!

## الشرطة (–) Dash

➢ အပိုဝါကျများ၏ အစနှင့်အဆုံးတွင်အသုံးပြုရသည်။ ဥပမာ -

كنت جالسا في فناء الدار ، فسمعت – ولم أكن أتحسس – مشاجرة بين جاري و ووجه.

➢ قال ၏ကိုယ်စားနှင့်စကားဝိုင်းအတွင်း ပြောသူများ ကိုယ်စား အသုံးပြုရသည်။ ဥပမာ -

قال علي لزميله : مااسمك؟

–محمد بن سعيد ، ومااسمك؟

–اسمي علي.

➢ المبتدأ والخبر ကဲ့သို့ ခြားနားမှုရှည်လျားသော ဝါကျ၏အစိတ်အပိုင်း နှစ်ခုကြားတွင် အသုံးပြုရသည်။ ဥပမာ -

الكاتب الغني والمعلومات الموسيقى المكتوب بالغة علمية سليمة، وبأسلوب واضح – تحرض على شرائه.

➢ အရေတွက်ပြစကားလုံး၊ဗျည်းများ၏နောက်တွင်အသုံးပြုရသည်။

ဥပမာ - ١–٢–٣– /أ–ب–ج– -

➢ သမိုင်းအမှတ်စဉ်ကြားတွင် "သို့" ၏အဓိပ္ပါယ်အတွက်အသုံးပြုသည်။

ဥပမာ - ص ١٢٠ – ١٤٤ ، ١٤٠٩ – ١٤٢٢ ه. -

## الشرطة المائلة–Slash(\)

➢ နေ့၊လ၊နှစ်များ ရေးသားရာတွင် ခြားနားသည့်အနေဖြင့် အသုံးပြုရသည်။

ဥပမာ - ٢٩/٤/١٤٤٤ه -

➢ သီးသန့်ရည်ညွှန်းမှုရှိသော အမှတ်စဉ်များနှင့် စကားလုံးများအကြား အသုံးပြုသည်။

ဥပမာ - (صحيح مسلم : ٢/١٢٣) المجلد الثاني، الصفحة ١٢٣) -

➢ အကွာဝေးအလေးချိန်များဖော်ပြရာတွင် لكل နှင့် في ၏ကိုယ်စားအသုံးပြုရသည်။

ဥပမာ - جم / لتر ، ١٠٠ كم / ساعة. -

### (" ") Quotation mark - علامة التنصيص ولاقتباس

- ကူးယူပြစကားစုအား အတိုချုံ့ကန့်သတ်ရာတွင်အသုံးပြုရသည်။

  ဥပမာ -"إنما الأعمال بالنيات" : قالﷺ

- စာရေးသူ သတိထားအာရုံစိုက်စေလိုသော ၊ အသုံးပြုရာတွင် ဆင်ခြင်စေလိုသည့် စာစုများ၊ဝေါဟာရများနှင့်အမည်နာမများတွင် အသုံးပြုသည်။

  ဥပမာ -.((علامات الترقيم)) أفضل موضوع عند الطلاب

### () The semicircular arches - القوسان الهلاليان

- အခေါ်အဝေါ်များ နှင့် အမည်နာမများအား ရှင်းလင်းစေရန်အတွက် အသုံးပြုသည်။

  ဥပမာ - .يعد كتاب (القانون) من أقدم المراجع الطبية

- ရာထူး ၊ အဆင့်အတန်းများ သတ်မှတ်ရာတွင် အသုံးပြုသည်။

  ဥပမာ - .زار الأستاذ محمد (وكيل المدرسة) بعض الفصول

- စကားလုံးအား အကျယ်ဖွင့်ဆိုရာတွင် အသုံးပြုသည်။

  ဥပမာ - .الأنانية (حب الذّات) داء قاتل

- စကားလမ်းကြောင်းတွင် စကားလုံးတစ်ခုအား ပေါ်လွင်စေရန် အသုံးပြုသည်။

  ဥပမာ -.زار الأستاذ محمد وكيل المدرسة (سابقا) بعض الفصول

- အကြောင်းအရာတွင် ဖော်ပြပြီးသား စကားအား အတိုချုံ့ရာတွင် အသုံးပြုသည်။

ဥပမာ - .(المؤمنون) قرأت سورة

- အရဗီဘာသာဖြင့်မဟုတ်သော အမည်များ နှင့် ခေါင်းစဥ်များအား ဖော်ပြရာတွင် အသုံးပြုသည်။

ဥပမာ -.........ولد (بابلو نيلودا) في تشيلي عام

## [ ]المربّعان و المعكوفانSquare brackets

- ရှေ့တွင်ဖော်ပြခဲ့သော လခြမ်းကွင်းစကွင်းပိတ်အသုံးပြုသကဲ့သို့ အသုံးပြုနိုင်သည်။ သို့သော် လေးထောင့်ကွင်းစကွင်းပိတ်များသည် စာတမ်းသုတေသနများတွင် ကျမ်းညွှန်းပေးသည့်အခါ သီးသန့်အနေဖြင့် အသုံးပြုသည်။
- သုတေသနပညာရှင်အနေဖြင့် မူရင်းစာသားများတွင် စကားလုံး (သို့မဟုတ်) စာသား အပိုထည့်သွင်းသည့်အခါ အသုံးပြုရသည်။

ဥပမာ - ."وهذا المال مالا هكذا زكاته"

## علامة الحذفThe ellipsis ...

- ကူးယူလာသော စကားမှဖော်ပြရန် မလိုအပ်သော အစိတ်အပိုင်းများ ဖြတ်တောက်ထားကြောင်း ညွှန်ပြလိုသည့်အခါ အသုံးပြုသည်။

ဥပမာ -...اقتنيت كتبا وأقلاما و

- ရံဖန်ရံခါ သုတေသနစာတမ်းများတွင် ကွင်းစကွင်းပိတ်နှင့် တွဲဖက်၍ အသုံးပြုသည်။ ဥပမာ - [...]

❖ **အဓိပ္ပါယ်သင်္ကေတများသုံးစွဲရာတွင် သတိထားဆင်ခြင်ရမည့်အရာများ**

- အချို့သင်္ကေတများသည် အသုံးပြုသည့်အခါ စကားလုံး၏နောက်တွင် တိုက်ရိုက် ကပ်လျက်ရေးသားရမည်။ ခွဲထားခြင်းမပြုရပေ ။ယင်းတို့မှာ အောက်ပါ စကားလုံးများ ဖြစ်သည်။

النقطة

الفاصلة

الفاصلة المنقوطة

النقطتان

علامة الاستفهام

علامة التعجب

وعلامة الحذف

ဥပမာ -

جاء خالد.

جاء علي, وخالد.

لماذا تغيبت يوم أمس؟

သုံးစွဲမှုမှားယွင်းပုံ

رجع عمر .

أين الطريق المؤدية إلى لاهور ؟

- ကွင်းစကွင်းပိတ် နှင့် စာသား၊ စကားလုံးအား ကပ်လျက်ရေးသားရ မည်။ ခွဲခြင်းမပြု ရ။

ဥပမာ -

((العلم نور))

تجري الرياح بما لا تشتهى السفن {المتنبي}

(القدس عاصمة الثقافة العربية.)

သုံးစွဲမှုမှားယွင်းပုံ

(( العلم نور ))

تجري الرياح بما لا تشتهى السفن { المتنبي }

( القدس عاصمة الثقافة العربية. )

- ပြန်ပြောင်းပြောကြားသည့် စကားလုံးအား ကွင်းစကွင်းပိတ်ထဲတွင် ရေးသား ရမည်။ ပြန်လည်ပြောဆိုသူ၏စကားအား ကွင်းစကွင်းပိတ် အပြင်ဘက် တွင် ရေးသားရမည်။ ဥပမာ -

سألني الأستاذ: ((هل أنت مستعد للامتحان؟))، فأجبته: ((بكل تأكيد!)).

لماذا قال لك المدرس يوم أمس: ((أنت طالب مجتهد يا وسام))؟

ဒုတိယဥပမာတွင် အမေးသင်္ကေတအား ကွင်းစကွင်းပိတ်အပြင်ဘက်တွင် ထားရသည်အားတွေ့နိုင်သည်။ အကြောင်းမှာ ပြန်ပြောင်းပြောကြားသည့် စကားစုတွင် အမေးစကားစုမပါဝင်သောကြောင့်ဖြစ်သည်။

- အဓိပ္ပါယ်ညွှန်သင်္ကေတများအားသုံးစွဲခြင်းအခြေခံနည်းဥပဒေများ

၁ - အဓိပ္ပါယ်ညွှန်သင်္ကေတများအား သင့်လျော်သောနေရာများတွင် အထားအသို မှန်ကန်စွာအသုံးပြုရမည်။ သုံးစွဲရခြင်း၏ ရည်ရွယ်ချက်မှာ စာရေးသားမှုအား ပိုမို နားလည်စေရန်ဖြစ်၏။ ထို့ကြောင့် သုံးစွဲရန်မသင့်သော နေရာများ တွင် မသုံးစွဲရပါ။ စာနားလည်မှုအားထောက်ရှု၍ ဖြုတ်ချလိုကဖြုတ်နိုင်သည်။ ကွင်းစကွင်း ပိတ်များနှင့် မျက်တောင် အဖွင့်အပိတ်များအား ဖြုတ်ချနိုင်သည်။ ထိုထဲတွင် ကော်မာ နှင့် အစက် အပြောက် မပါဝင်ပေ။

၂ - ကော်မာသည် စာပိုဒ်အဆုံးတွင်မကျရောက်ပါ။

၃ - စာပိုဒ်တစ်ခုမှတစ်ခုသို့ ပြောင်းလဲသည့်အခါ မည်သည့်သင်္ကေတမျှရှိမနေခြင်းသည် မှန်ကန်သော သုံးစွဲရေးသားခြင်း မဟုတ်ပေ။

၄ - အဓိပ္ပါယ်ညွှန်သင်္ကေတများအား ကပ်လျက်တွဲ၍ရေးသားရန် လိုအပ်သည့် နေရာ များတွင် အထူးသတိပြုရမည်။ ဥပမာ -

النقطة

الفاصلة

الفاصلة المنقوطة

النقطتان

علامة الاستفهام

علامة التعجب

وعلامة الحذف

၅ - الفاصلة المنقوطة (؛) Semicolon အား ဆက်နွယ်မှုရှိသော ဝါကျများ အကြားတွင် အသုံးမပြုရပါ။

၆ - ရေးသားရာတွင် စကားလုံးများအကြား ကွာဟမှု Space ရှိခြင်းအား ရှောင်ကြဉ်ရမည်။

ဥပမာ - ماله " နှင့် " ما له "

၇ -...The ellipsis علامة الحذف အားအသုံးပြုရာတွင် အစက်အပြောက်သုံးစက်ထက်ပိုမို၍ အသုံးပြုခြင်းမပြုရပါ။

၈ - Quotation markعلامة التنصيص والاقتباس (" ") အား တစ်နေရာတည်းတွင် နှစ်ခါအသုံးပြုရန်လိုအပ်လာပါကမတူညီသောပုံစံကွဲဖြင့်အသုံးပြုရမည်။ ဥပမာ -

قال الإمام: "تفسير قول النبي صلى الله عليه وسلم ((إنما الأعمال بالنيات)) أن النية..."

## الهمزة ရေးသားသုံးစွဲနည်း

الهمزة သည်နှစ်မျိုးရှိသည်။

(၁) همزة الوصل

(၂) همزة القطع

## همزة الوصل ဟူသည်...

همزة الوصل သည် ရပ်နားသည့်အခါ၌သာ အသံထွက်ဖတ်ရပြီး အရှေ့တွင်ရှိသော စကားလုံးဖြင့် ဆက်ဖတ်သည့်အခါ အသံထွက်၍ဖတ်ရန် မလိုအပ်သော همزة ဖြစ်သည်။

### **همزة الوصل** သုံးစွဲရမည့်နေရာများ

(၁) အောက်ဖော်ပြပါ နာမ်များတွင် အသုံးပြုသည်။

ဥပမာ - اسم، ابن، ابنة، امرؤ، امرأة، اثنان، اثنتان، است، ابنم، ايم

(၂) အောက်ဖော်ပြပါ အက္ခရာတွင် အသုံးပြုသည်။ ဥပမာ - ال

(၃) مجرد ثلاثي ၏ أمر များတွင် အသုံးပြုသည်။ ဥပမာ- اشرب

(၄) الخماسي (သို့မဟုတ်) السداسي ၏ مصدر နှင့် أمر တွင်အသုံးပြုသည်။

ဥပမာ- انتصر، انتصِر، انتصار، استكمل، استكمِل، استكمال

## همزة القطع ဟူသည်

همزة القطع ဟူသည် ဖတ်ရွတ်ရာတွင်ဖြစ်စေ၊ရေးသားရာတွင်ဖြစ်စေ ဖြုတ်၍ မရသော ဖြစ်သည်။ စကားလုံး၏ စ၊လယ်၊ဆုံးတွင် လာရောက်နိုင်ပြီး الألف، الواو ، الياء،အပေါ်တွင် လာရှိနိုင်သည်။

### သုံးစွဲရမည့်နေရာများ

(၁) الفعل الثلاثي المهموز နှင့်၎င်း၏ مصدر ။ ဥပမာ - أكل، أكلا

(၂) الفعل الرباعي နှင့်၎င်း၏ أمر နှင့် مصدر ။ ဥပမာ– أنشأ، أنشئ، إنشاء

(၃) الفعل المضارع المتكلم ။ ဥပမာ - أكتب، أجلس، أقرأ

(၄) အက္ခရာများ၏အစတွင်လာရှိမည်။ ဥပမာ - إذ، إلى، إلّا

(၅)همزة الوصل လာရှိသော ဖော်ပြခဲ့သည့်နာမ်များမှလွဲ၍ ကျန်ရှိ အရဗီနာမ်များတွင် လာရှိမည်။ ဥပမာ - إبراهيم، أحمد، أب، أمّ، أخ

### همزة القطع နှင့် همزة الوصل ကြားကွာခြားချက်

(၁) همزة الوصل သည် စကားအစတွင်သာ လာရှိမည်။ همزة القطع သည် စကားလုံး စ၊လယ်၊ဆုံးတွင် လာရှိမည်။ ဥပမာ - استمع، اقرأ، أخذ، سأل، لجأ.

(၂) همزة القطعသည် တခြားစကားလုံးများဝင်ရောက်ခြင်းကြောင့် ဖတ်ရွတ်၊ ရေးသား နည်းတွင် ပြောင်းလဲခြင်းမရှိပေ။

ဥပမာ - لأسمع، كأستاذه، سأسافر، فأحمد، أ أذهب، هأنذا

## စကားလုံး၏ စ၊လယ်၊ဆုံးတွင် الهمزة လာရှိခြင်း

- ၁။ စကားလုံး၏အစတွင်လာရှိပါက الهمزة အား الفتحة နှင့် الضمّة ၏ အခြေအနေဖြစ်ပါက الألف ပေါ်တွင် ရေးသားရမည်။ الكسرة ၏ အခြေအနေဖြစ်ပါက الألف အောက်တွင်ရေးသားရမည်။ဥပမာ - إذا، أبدا، جبل أحد.
- ၂။ စကားလုံးအလယ်တွင် လာရှိသော الهمزة အကြောင်းမစတင်မီ အခြေခံဥပဒေနှစ်ခုအား ဦးစွာနားလည်သဘောပေါက်ရန် အရေးကြီး လိုအပ်သည်။

(က) الفتحة လာရှိပါက الهمزة အား الألف ပေါ်တွင်ရေးသားရမည်။الضمة လာရှိပါက الهمزة အား الواو ပေါ်တွင်ရေးသားရမည်။ الكسرة လာရှိပါက الياء အက္ခရာပေါ်တွင် ရေးသားရမည်။ ဥပမာ - أ، ؤ، ئ.

(ခ)သရများထဲတွင် အင်အားအကြီးဆုံးသရမှာ الكسرة ဖြစ်သည်။ ထို့နောက် الضمة နှင့် الفتحة ဖြစ်သည်။ السكون သည် သရမဟုတ်ပါ။

- **အောက်ဖော်ပြပါအခြေအနေများတွင် စကားလုံးအလယ်တွင် လာရှိ သော الهمزة အား الياء အက္ခရာပေါ်တွင်ရေးသားရမည်။**

၁။الهمزة ၏အလျင်တွင်ရှိသော အက္ခရာ၏သရသည် မည်သည့်သရဖြစ်စေ الهمزة သည်الكسرة ၏အခြေအနေတွင်ရှိနေခြင်း။ ဥပမာ - فائز، ملائم، بائس.

၂။الهمزةသည်မည်သည့်သရဖြစ်စေ ၎င်း၏အလျင်တွင်ရှိသော အက္ခရာ၏သရသည် الكسرة အခြေအနေတွင်ရှိနေခြင်း။ဥပမာ - ذئب، رئة.

၃။ الهمزة သည်မည်သည့်သရဖြစ်စေ ၎င်း၏အလျင်တွင်ရှိသော အက္ခရာသည် السكونရှိသော الياء ဖြစ်နေခြင်း။ဥပမာ - مشيئة، بيئة.

❖ **အောက်ဖော်ပြပါအခြေအနေများတွင် စကားလုံးအလယ်တွင် လာရှိသော الهمزة အား الواو အက္ခရာပေါ်တွင်ရေးသားရမည်။**

၁။ الهمزة သည် الضمة ၏အခြေအနေတွင်ရှိနေပြီး ၎င်း၏အလျင်တွင် الكسرة မရှိနေခြင်း။ဥပမာ - رؤوف، لؤم، دؤوب، مشئوم، مسؤول.

၂။ الهمزة ၏အလျင်တွင်ရှိသောစကားလုံးတွင် الضمة ရှိနေပြီး ၎င်းသည် الكسرة၏ အခြေအနေတွင်ရှိမနေခြင်း။ ဥပမာ -. مؤنس، مؤمن، لؤي

❖ **အောက်ဖော်ပြပါအခြေအနေများတွင် စကားလုံးအလယ်တွင် လာရှိသော الهمزةအား الياء အက္ခရာပေါ်တွင် ရေးသားရမည်။**

၁။ الهمزة ပေါ်တွင် الفتحة ရှိနေပြီး ၎င်း၏အလျင်စကားလုံးသည် الفتحة ၏ အခြေအနေတွင်ရှိနေခြင်း။ဥပမာ - سأل، دأب، متأثر، تأقلم.

၂။ الهمزة ပေါ်တွင်الفتحة ရှိနေပြီး ၎င်း၏အလျင်စကားလုံးတွင်السكون ရှိနေခြင်း။ ဥပမာ - مسألة، مرأة، منأى، وطأة.

၃။الهمزة ပေါ်တွင် السكون ရှိနေပြီး ၎င်း၏အလျင်စကားလုံးသည်الفتحة၏ အခြေအနေတွင် ရှိနေခြင်း။ ဥပမာ - رأس، ثأر، مأتم، تأريخ.

❖ **အောက်ဖော်ပြပါအခြေအနေများတွင် စကားလုံးအလယ်တွင် လာရှိသော الهمزة အား မျဉ်းပေါ်တွင်သာ သီးသန့်ရေးသား ရ မည်။**

၁။ الهمزة ပေါ်တွင် الفتحة ရှိနေပြီး ၎င်းအလျင်တွင်ရှိသောစကားလုံးမှာ الساكن ရှိသော الألف ဖြစ်နေခြင်း။ဥပမာ - قراءة، هناءة، عباءة.

၂။الهمزة ပေါ်တွင် الفتحة (သို့မဟုတ်) الضمّة ရှိနေပြီး ၎င်းအလျင်ရှိသော စကားလုံးမှာ الساكن ရှိသော الواو အက္ခရာဖြစ်နေခြင်း။ ဥပမာ - مروءة، نبوءة.

**စကားလုံးအဆုံးတွင်လာရှိသော الهمزة အကြောင်း**

➢ الياء အပေါ်တွင်ရေးသားနည်း

الهمزةအလျင်ရှိ အက္ခရာသည် الكسرة၏အခြေအနေတွင်ရှိခြင်း ။

ဥပမာ - دافئ، مكافئ، مبدئ، ملاجئ.

➢ الواو အပေါ်တွင် ရေးသားခြင်း

الهمزةအလျင်ရှိ အက္ခရာသည် الضمة ၏အခြေအနေတွင်ရှိနေခြင်း။

ဥပမာ - لؤلؤ، جؤجؤ، يجرؤ، التباطؤ.

➢ الألف အပေါ်တွင် ရေးသားခြင်း

الهمزة အလျင်ရှိအက္ခရာသည် الفتحة ရှိနေခြင်း။

ဥပမာ - ملأ، بدأ، يدرأ، فاجأ.

အထက်ဖော်ပြပါ အခြေအနေသုံးရပ်တွင် الضمير နာမ်စားဖြင့် တွဲလာပါက ပုံစံနှစ်မျိုးဖြင့်ရေးပိုင်သည်။

ဥပမာ - يبدأون، يبدؤون، يقرأون، يقرؤون.

သို့သော် الهمزة သည် မိမိအလျင်ရှိသော ဗျည်းအက္ခရာဖြင့် တွဲလာပါက الألف ပေါ်တွင်သာရေးသားရမည်။ ဥပမာ - ينشأون

❖ **စကားလုံးအဆုံးရှိ الهمزة အား မျဉ်းပေါ်တွင် သီးသန့် ရေးသားရခြင်း။**

الهمزة ၏အလျင်ရှိသောအက္ခရာသည် الساكن ရှိသောအက္ခရာ (သို့မဟုတ်) حرف المد : ا، و، ي ဖြစ်ပါက သီးသန့်ရေးသားရမည်။

ဥပမာ-. البطء، إنشاء، ضوء، مليء، شيء، البدأ

## ဆရာ မုဖ်သီ အာစွင်းမ်(နဒ်ဝီ၊ မဇွာဟေရီ)၏ အမှာစာမှ

- ❖ စာရေးရာတွင် အဓိပ္ပါယ်ညွှန်သင်္ကေတများကို သူ့နေရာနှင့်သူ တပ်ဆင်ပေးခြင်းဖြင့် စာရေးသူ၏ ရည်ရွယ်ချက်ကို နားလည် နိုင်မည်။
- ❖ အဓိပ္ပါယ်များလည်း ရုပ်လုံးပေါ်လာမည်။
- ❖ ဝါကျတစ်ခုနှင့်တစ်ခုကြားရှိသည့် ဆက်သွယ်ချက်ကိုလည်း သိရှိနိုင်မည်။
- ❖ ထိုသင်္ကေတများသည် စကားပြောဆိုရာတွင် လက်ဟန် ခြေဟန်၊ အသံနေအသံထား စသည်တို့ကို ကိုယ်စားပြု ပေးမည်ဖြစ်သည်။
- ❖ အဓိပ္ပါယ်ညွှန်သင်္ကေတများကို စနစ်တကျ တပ်ဆင်ထားခြင်း ဖြင့် စာဖတ်ရာတွင်အဓိပ္ပါယ်ရှိရှိ ဖြတ်တောက်နိုင်ပြီး စာဖတ် တတ်လာမည်ဖြစ်သည်။